

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မ်နသ - ၇၃၆/၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးအေးကို

(ခ) အဘ အမည် ဦးစိန်အောင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၃ /လရန(နိုင်) ၀၁၀၂၀၉

(ဃ) နေရပ်လိပ်စာ အမှတ် (၁၀၀/ဓ)၊ လမ်းသာယာလမ်း၊ (ရ.က.က) ရပ်ကွက်၊ ပြင်ဦးလွင်မြို့နယ်၊ မန္တလေးမြို့။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** အေးကိုမိသားစုဆောက်လုပ်ရေးကုမ္ပဏီ လီမိတက် (Family Aye Ko Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ဘားအံ - ကော့ကရိတ် - မြဝတီလမ်းအပိုင်း (သံလွင်တံတားထိပ် မိုင်တိုင် ၃/၅ မှ သံလွင်တံတားနှင့် ချဉ်းကပ်လမ်းအပါအဝင်စုစုပေါင်း၁၁၀မိုင်၊ ၂ဖာလုံ)

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၇၅၆၀.၀၆ (သန်း) (အမေရိကန်ဒေါ်လာ ၂.၃၃ သန်း အပါအဝင် ကျပ်ခုနှစ်ထောင့်၊ ငါးရာ၊ ခြောက်ဆယ်သန်းနှင့်ခြောက်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၃ /၂၀၁၀ (မနသ)
နေပြည်တော်၊ ၁၃၇၁ ခုနှစ်၊ တပေါင်းလဆန်း ၇ ရက်
(၂၀၁၀ ခုနှစ် ၊ ဖေဖော်ဝါရီလ ၁၉ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် ဘားအံ-ကော့ကရိတ်-မြဝတီလမ်း အပိုင်း (သံလွင် တံတားထိပ် မိုင်တိုင် ၃/၅ မှ သံလွင် တံတားနှင့် ချဉ်းကပ်လမ်း အပါအဝင် စုစုပေါင်း ၁၁၀ မိုင် ၊ ၂ ဖာလုံ )အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို မြန်မာ နိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၁၅-၁၂-၂၀၀၉)နေ့ တွင်ကျင်းပ သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄၄ /၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင် မှ စိစစ်ခဲ့ပြီး (၁၃-၁-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ ၏ (၂/၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီ ချက် အရ(၁၁-၂-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၆/၂၀၁၀)အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) အား ဘားအံ-ကော့ကရိတ်-မြဝတီလမ်း အပိုင်း (၁၁၀ မိုင် ၊ ၂ ဖာလုံ )ကို BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၃၆ /၂၀၁၀ ကို ထုတ်ပေးလိုက် သည်။

၂။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့်(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy - back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ဘားအံ - ကော့ကရိတ် - မြဝတီလမ်း အပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ် ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရ မည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းနှင့် အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) တို့ ချုပ်ဆိုမည့် ဘားအံ-ကော့ကရိတ်-မြဝတီလမ်း အပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး ပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) ၏ ဘားအံ-ကော့ကရိတ်-မြဝတီလမ်း အပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည် ။

၉။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | |
|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | - ၂၀% ပေးသွင်းရန် |

၁၀။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန် သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထား သော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက် သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား

အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၀၅၀ /၂၀၁၀(၂၀၆၂ )
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဖေဖေါ်ဝါရီ လ ၁၉ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ ကရင်ပြည်နယ် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ ဘားအံမြို့။
၅။ စာရင်းစစ်ချုပ်ရုံး။
၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၈။ အလုပ်သမား ဝန်ကြီးဌာန။
၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌနိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၇၉ / ၁၄၈ /အဖရ ( ၆ / ၂၀၁၀ ) ။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၉ ရက်။

အ မှာ စာ

အကြောင်းအရာ။ **ဘားအံ- ကော့ကရိတ် - မြဝတီ လမ်းအပိုင်းနှင့် ကလေး- ကျိုကုန်း- ကလေးဝ- တမူး လမ်းအပိုင်းတို့ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်းကိစ္စ။**

၁။ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၁ ရက် ( ကြာသပတေး ) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၀) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး ( ကိုယ်စား )
(အောင်လွင်ဦး)

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

၇၉။ **ဘားအံ- ကော့ကရိတ် - မြဝတီ လမ်းအပိုင်းနှင့် ကလေး- ကျိုကုန်း- ကလေးဝ- တမူး လမ်း အပိုင်း တို့ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ် ၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင် ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်းကိစ္စ။**

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက် နေ့စွဲပါ အမှာစာအမှတ်၊ ရက - ၆ (ခ)/မ - လမ်း/၂၀၁၀ (၁၈၈၆)။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။

အမှာစာကို သဘောတူကြသည်။



ZNNS/D:/Final 2010/Yellow papers 2010/01 Jan 2010/06-10 yellow

ရှုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M-286
18/2

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၈ ရက်၊

အကြောင်းအရာ။ ။ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်(Family Aye Ko Construction Co., Ltd.) မှ ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း (၁၁၀ မိုင်၊ ၂ ဖာလုံ ) အား BOT စနစ် ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက် ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Family Aye Ko Construction Co., Ltd.)မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် ဘားအံ - ကော့ကရိတ် - မြဝတီလမ်း အပိုင်း (သံလွင် တံတားထိပ် မိုင်တိုင် ၃/၅ မှ သံလွင်တံတားနှင့် ချဉ်းကပ်လမ်း အပါအဝင် စုစုပေါင်း) (၁၁၀ မိုင်၊ ၂ ဖာလုံ ) အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက် အား (၁၅-၁၂-၂၀၀၉)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၄၄ / ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင် မှ စိစစ်ခဲ့ပြီး (၁၃-၁-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ( ၂ /၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၁၁-၂-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၆/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့် အညီ အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Family Aye Ko Construction Co., Ltd.) မှ ဘားအံ - ကော့ကရိတ် - မြဝတီလမ်း အပိုင်း (၁၁၀ မိုင်၊ ၂ ဖာလုံ ) အား BOT စနစ်ဖြင့်

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ တွင် လက်မှတ်ရေးထိုး ပေးနိုင် ပါရန် ပြုစု တင်ပြ အပ်ပါသည်။

(ဗိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဦးစီးမှူး

၁၉/၂

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂ ရက်၊

M-162
212

အကြောင်းအရာ။ ။ ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း နှင့် ကလေး - ကျီကုန်း- ကလေးဝ- တမူး လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ။

၁။ အောက်ပါလမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ကော်မရှင်ခွင့်ပြုမိန့် ရရှိရေးအတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ဘားအံ- ကော့ကရိတ် - မြဝတီ | ၁၁၀ မိုင် ၂ ဖာလုံ | ကျပ် ၇၅၆၀.၀၆ သန်း (US$ ၂.၃၃ သန်း အပါအဝင်) | အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | ကလေး- ကျီကုန်း - ကလေးဝ - တမူး | ၁၀၀ မိုင် | ကျပ် ၈၆၇၁.၂၀ သန်း | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

၂။ အထက်ပါ လမ်းအပိုင်း (၂)ခုအား (၁၃-၁-၂၀၁၀) နေ့တွင်ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ရာ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၀) အစည်းအဝေးမှ သဘောတူသဖြင့် အဆိုပါ လမ်းအပိုင်း(၂)ခု၏ လုပ်ငန်း အဆိုပြုလွှာများအား အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြ ပေးပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် ဆက်လက် တင်ပြခြင်း ဖြစ်ပါသည်။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်



၄။ သို့ဖြစ်ပါ၍ အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြမည့် အမှာစာ (စာချော) တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီး သူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-လမ်း/၂၀၁၀ ( ၁၈၈၆ )
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၄ ရက်။

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ ။ ။ ဘားအံ- ကော့ကရိတ် - မြဝတီ လမ်းအပိုင်း နှင့် ကလေး- ကျီကုန်း- ကလေးဝ- တမူး လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ။

၁။ အောက်ပါလမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့် ရရှိရေးအတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ဘားအံ- ကော့ကရိတ်- မြဝတီ | ၁၁၀ မိုင် ၂ ဖာလုံ | ကျပ် ၇၅၆၀.၀၆ သန်း (US$ ၂.၃၃ သန်း အပါအဝင်) | အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | ကလေး- ကျီကုန်း - ကလေးဝ - တမူး | ၁၀၀ မိုင် | ကျပ် ၈၆၇၀.၂၀ သန်း | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

၂။ အထက်ပါ လမ်းအပိုင်း (၂)ခုအား (၁၃-၁-၂၀၁၀) နေ့တွင်ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ရာ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ(က)

၃။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၀) အစည်းအဝေးမှ သဘောတူသဖြင့် အဆိုပါ လမ်းအပိုင်း(၂)ခု၏ လုပ်ငန်းအဆိုပြုလွှာများအား အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြပေးပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

၄။ အဆိုပြု လမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံ စနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများ အတွက် တံတား အသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ လမ်းအပိုင်း အလိုက် (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှု နှင့် အသုံးပြုခ ကောက်ခံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

**အဆိုပြုလမ်းအပိုင်းများပေါ်ရှိ (၁၈၀)ပေ အထက်တံတားကြီးများ အသုံးပြုခကောက်ခံမှု**

| စဉ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက်သည့် တံတား (ကုမ္ပဏီမှ ကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း (၁၁၀/၂) မိုင် (အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်) | ဂျိုင်း (ကော့ကရိတ်) (၁၂၀၀') <br> သံလွင်တံတား (ဘားအံ) (၂၂၅၂') | ဂျိုင်း (ကော့ကရိတ်) (၁၂၀၀') | - ယခုလက်ရှိ ဌာနမှ တည်ဆောက်ထားသော တံတားမှာ စီမံကိန်းဝင် တံတားဖြစ်၍ စီမံကိန်း နှုန်းဖြင့် ကောက်ခံ နေပါသည်။ <br> - ကုမ္ပဏီမှ အသစ် တည်ဆောက်မည့်တံတားကို သာမန် တံတားနှုန်းဖြင့် ကောက်ခံမည်ဖြစ်ပါသည်။ <br> - စီမံကိန်းဝင်တံတား ဖြစ်၍ စီမံကိန်းနှုန်း ဖြင့် ကောက်ခံရန်။ |

| စဥ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက်သည့် တံတား (ကုမ္ပဏီမှ ကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| | | နောင်လို ၃၈၀′<br>လှိုင်ဝ ၂၄၀′<br>လှိုင်ချောင်း ၂၂၀′<br>မဲကနယ် ၃၀၀′<br>သဃ်န်းညီနောင် ၂၆၂′ | | - အသုံးပြုခ မကောက်ခံပါ။ |
| ၂။ | ကလေး- ကျီကုန်း - ကလေးဝ -တမူးလမ်းအပိုင်း (အေးအေးနိုင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) | - | - | |

၅။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ်(မူကြမ်း)များပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေး ကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ်ဆောင်ရွက်ပြီးစီးမှုလက်မှတ်ထုတ်ပေးသည့်နေ့၊ ထိုနှစ်ရပ်အနက်စောရာ နေ့ရက်ကာလ မှ စတင်သတ်မှတ်မည်ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဥ် | ယာဥ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း(ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက် ယာဥ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ (၃)တန်အထိ ယာဥ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅)တန်အောက် ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း(ကျပ်) |
|---|---|---|
| ၄။ | (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီးများ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိ ကုန်တင်ယာဉ်ကြီးများ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက် တန်ပို(၁)တန်လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ(၁၈၀)နှင့် အထက် ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ် ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများအတွက် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည်ဖြစ်ပါသည်။

(င) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါသတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ်အတွက် -------- ကင်းလွတ်ခွင့်ကာလ

(၂) (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ(၁၀)နှစ် --------- ၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက် မှ (၂၃) နှစ်မြောက် အထိ (၁၀)နှစ် --------- ၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃) နှစ်မြောက် အထိ (၁၀)နှစ် --------- ၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက် မှ (၄၀) နှစ်မြောက် အထိ (၇)နှစ် --------- ၂၀% ပေးသွင်းရန်

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ်ချုပ်ဆိုပြီး (၃၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ထားရှိ ပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ သည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော် လည်းကောင်း၊ သတ်မှတ် ကာလအတွင်း လုပ်ငန်းကို ပြီးစီး အောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်

များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံ ငွေကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ သိမ်းယူရမည်ဖြစ်ပါသည်။ ဘဏ်အာမခံငွေ ကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရပါမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့်မပြုရပါ။

(ဇ) လုပ်ငန်း စတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ(ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ ဖြစ်ပါသည်။

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလ နှစ်(၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦ များကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်း ပေးရမည် ဖြစ်ပါသည်။

၆။ လမ်းအပိုင်းအလိုက် လမ်း ဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက် ခွင့်ပြုသည့် နေ့ရက် များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း | ၂၃-၉-၂၀၀၉ |
| ၂။ | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ကလေး - ကျီကုန်း - ကလေးဝ - တမူး လမ်းအပိုင်း | ၂၀-၁၀-၂၀၀၉ |

၇။ အဆိုပြု လမ်းအပိုင်း(၂)ပိုင်းအား ကုမ္ပဏီ(၂)ခုတို့မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက် အလက်များကို နောက်ဆက်တွဲ (ခ)မှ (ဂ) အထိ လည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ (ဃ) မှ (င)အထိ လည်းကောင်း ပူးတွဲ တင်ပြအပ်ပါသည်။

၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ဥပဒေပုဒ်မ ၁၃ အရ အခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၉။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အောက်ပါ လမ်းအပိုင်း (၂)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းအား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း | (၁၁၀ မိုင် ၂ ဖာလုံ) | အေးကိုမိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ခ) | ကလေး - ကျီကုန်း - ကလေးဝ- တမူးလမ်းအပိုင်း | (၁၀၀ မိုင်) | အေးအေးနိုင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်

၁၀။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ် မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။

၇

နောက်ဆက်တွဲ(က)



ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ ခုနှစ်၊ ဇန်နဝါရီလ(၁၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၆-က | ၅၄၀ | အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ဆောက်လုပ်ရေးဝန်ကြီးဌာန။ |

| | | | |
|---|---|---|---|
| (က) | ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း | (၁၀၀ မိုင် ၂ ဖာလုံ) | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ခ) | ကလေး - ကျီကုန်း - ကလေးဝ - တမူး လမ်းအပိုင်း | (၁၀၀ မိုင်) | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |



နောက်ဆက်တွဲ (ခ)

ဘားအံ-ကော့ကရိတ်-မြဝတီလမ်းအပိုင်း (အေးကိုမိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်<br>(ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၁၃၉၆/ ၂၀၀၇ - ၂၀၀၈<br>(၁၀-၁-၂၀၀၈) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအေးကို (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဘားအံ-ကော့ကရိတ်-မြဝတီလမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍လမ်းတံတားအသုံးပြုခကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - ဘားအံ-ကော့ကရိတ်-မြဝတီအပိုင်း (၁၁၀ မိုင် ၂ ဖာလုံ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>(လမ်းဖောက်လုပ်ရေးစရိတ် အပါအဝင်)<br>- တံတားတည်ဆောက်ခြင်း<br>- စက်ပစ္စည်းကိရိယာများ | - ကျပ် ၇၅၆၀.၀၆ သန်း (US$ ၂.၃၃ သန်းအပါအဝင်)<br>၅၉၈၇.၉၁ (ချေးငွေ ကျပ် ၁၀၀၀.၀၀ သန်း အပါအဝင်)<br>၁၅၅၈.၂၀<br>၁၃.၉၅ (US$ ၂.၃၃ သန်းအပါအဝင်)<br>(ကျပ် ၁၀၀၀.၀၀ သန်းကို တစ်နှစ်လျှင် ၁၇% အတိုးဖြင့် နိုင်ငံတော်မှ ချေးယူပါသည်။) |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန်ခရီးအတွက်<br>သံလွင်တံတားထိပ်တွင် (၁)ဂိတ်<br>ကော့ကရိတ်စစ်ဆေးရေးဂိတ်အနီး (၁)ဂိတ်<br>မြဝတီကုန်သွယ်ရေးဇုန်စစ်ဆေးရေးဂိတ်အနီး (၁)ဂိတ် |
| ၇။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၁၁၇၃.၅၇ သန်း |

| | | |
|---|---|---|
| ၈။ | အသားတင်အမြတ် (၇နှစ်မြောက်) | ကျပ် ၁၇၃.၇၆ သန်း |
| ၉။ | အရင်းကြေကာလ | (၂၄) နှစ် နှင့် (၁၁)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၇၉ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၇၄.၇၇ သန်း<br>ကျပ် ၅၈.၆၈ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၃၅) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်အကောက်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရပါမည်။ |

နောက်ဆက်တွဲ (ဂ)

## ကလေး-ကျီကုန်း-ကလေးဝ-တမူးလမ်းအပိုင်း (အေးအေးနိုင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အေးအေးနိုင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်<br>ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၉၅၅/၂၀၀၉-၂၀၁၀<br>(၇-၁၀-၂၀၀၉) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိုးနိုင်(ဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ကလေး-ကျီကုန်း-ကလေးဝ-တမူးလမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - ကလေး-ကျီကုန်း-ကလေးဝ-တမူးလမ်းအပိုင်းမိုင်တိုင် ၀/၀ မှ ၁၀၀/၀ အထိ (၁၀၀ မိုင် ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- လမ်းတန်ဖိုး<br>- တံတားတန်ဖိုး | - ကျပ် ၈၆၇၁.၂၀ သန်း<br>၃၁၆၀.၀၀<br>၅၃၆၅.၃၄<br>၁၄၅.၈၆ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန်ခရီးအတွက်<br>အင်းတိုင်ကြီးဂိတ် (၁)ဂိတ်<br>တမူးဂိတ် (၁)ဂိတ် |
| ၇။ | ဝင်ငွေ<br>(တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၄၃၁.၀၈ သန်း |
| ၈။ | အသားတင်အမြတ်<br>(၇နှစ်မြောက်) | ကျပ် ၅၀.၇၅ သန်း |
| ၉။ | အရင်းကြေကာလ | (၂၉) နှစ် နှင့် (၁၁)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၈၃ % |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၂၂.၁၈ သန်း<br>ကျပ် ၂၁.၅၅ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၄၁) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်အကောက်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရပါမည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ရုံးအမှတ်(၃၂)၊ နေပြည်တော်

FAX: 95-67-406333 တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁။

စာအမှတ်၊ ရကာ- ၆(က)/ မ- ၁၀၅၀၊ ၁၀၅၂/ ၂၀၁၀(၁၄၁၃ )၊
ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ ဇန်နဝါရီလ ၂၇ ရက်။

သို့

ဝန်ကြီးရုံး၊

ဆောက်လုပ်ရေးဝန်ကြီးဌာန။

အကြောင်းအရာ။ ။ ဘားအံ- ကော့ကရိတ် - မြဝတီ လမ်းအပိုင်း နှင့် ကလေး- ကျီကုန်း- ကလေးဝ- တမူး လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ။

ရည် ညွှန်း ချက် ။ ။ (၁) ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ -

(က) (၂၈-၁၂-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၁၀၁၂၂)၊

(ခ) (၂၈-၁၂-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁/ ခွဲ- ၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၁၀၁၂၃)၊

(၂) အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် ၏ (၃၀-၁၂-၂၀၀၉) ရက်စွဲပါ တင်ပြစာ။

၁။ အထက် အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့်တင်ပြခြင်းကို (၁၃-၁-၂၀၁၀)နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂/ ၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည် -

| | | | |
|---|---|---|---|
| (က) | ဘားအံ- ကော့ကရိတ် - မြဝတီလမ်းအပိုင်း | ၁၁၀ မိုင် ၂ ဖာလုံ | အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

| | | | |
|---|---|---|---|
| (၁) | ကလေး- ကျိုကုန်း - ကလေးဝ - တမူး လမ်းအပိုင်း | ၁၀၀ မိုင် | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန် နှင့် အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ (၁၅)စုံစီကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်း ထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
(၂) အေးကိုမိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်။
(၃) အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်။
} အဆိုပြုလွှာ ကိစ္စကို ဤရုံးနှင့် ဆက်သွယ်ဆောင်ရွက်ပါရန်။
(၄) ရုံးလက်ခံ/ မျှောစာတွဲ။

ရုံးတွင်းစာအကျဥ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M-014
7/10

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇန်နဝါရီ လ ၄ ရက်၊

အကြောင်းအရာ။ ။ ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း နှင့် ကလေး - ကျီကုန်း- ကလေးဝ- တမူး လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ။

၁။ အောက်ပါလမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ကော်မရှင်ခွင့်ပြုမိန့် ရရှိရေးအတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တဆင့် အဆိုပြု ချက်များ တင်ပြခဲ့ပါသည်။

| စဥ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ဘားအံ- ကော့ကရိတ် - မြဝတီ | ၁၁၀ မိုင် ၂ ဖာလုံ | ကျပ် ၇၅၆၀.၀၆ သန်း (US$ ၂.၃၃ သန်း အပါအဝင်) | အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | ကလေး- ကျီကုန်း - ကလေးဝ - တမူး | ၁၀၀ မိုင် | ကျပ် ၈၆၇၁.၂၀ သန်း | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

၂။ ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်းကို မူလက အေကေ ဆောက်လုပ်ရေး နှင့် စက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်အမည်ဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တဆင့် အဆို ပြုလွှာ တင်ပြခဲ့ပါ သည်။ အထက်ပါ လမ်းအပိုင်း (၂)ပိုင်းကို (၁၅-၁၂-၂၀၀၉) နေ့တွင် ကျင်းပ သော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ (၄၄/၂၀၀၉) အစည်းအဝေးသို့တင်ပြခဲ့ရာ အေ-ကေဆောက်လုပ်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် ဟိုတယ်လုပ်ငန်း လုပ်ကိုင် ခွင့် ရှိသည့် ကုမ္ပဏီဖြစ်ပါသဖြင့် လမ်းလုပ်ငန်း လုပ်ခွင့်ရှိသော ကုမ္ပဏီအမည်ဖြင့် ပြင်ဆင် တင်ပြလာပါက ကုန်သွယ်မှုမူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်း ဆုံးဖြတ်ချက်အရ ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်းကို ဆောင်ရွက်မည့် ကုမ္ပဏီ အမည်အား ဆောက်လုပ်ရေးလုပ်ငန်း လုပ်ခွင့်ရှိသော အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် အမည်ဖြင့် ပြောင်းလဲ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာပါသည်။ အဆိုပါ

လျှို့ဝှက်



ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ ခုနှစ်၊ ဇန်နဝါရီလ(၁၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၆-က | ၅၄၀ | အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ ဆောက်လုပ်ရေးဝန်ကြီးဌာန။ |

| | | | |
|---|---|---|---|
| (က) | ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း | (၁၁၀ မိုင် ၂ ဖာလုံ) | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ခ) | ကလေး - ကျီကုန်း - ကလေးဝ - တမူး လမ်းအပိုင်း | (၁၁၀ မိုင်) | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |




လျှို့ဝှက်

KKO /TTN 16-1-2010

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက- ၆ (ခ) /မ- လမ်း /၂၀၁၀ ( ၁၉၀ )၊

**ဘားအံ- ကော့ကရိတ် - မြဝတီ လမ်းအပိုင်း နှင့် ကလေး- ကျီကုန်း- ကလေးဝ- တမူး လမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ် ၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ။**

**အကျဉ်းချုပ်** ။ ။ အောက်ပါ လမ်းအပိုင်း(၂)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | ဘားအံ- ကော့ကရိတ် - မြဝတီ | ၁၁၀ မိုင် ၂ ဖာလုံ | ကျပ် ၇၅၆၀.၀၆ သန်း (US$ ၂.၃၃ သန်း အပါအဝင်) | အေးကို မိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| ၂။ | ကလေး- ကျီကုန်း - ကလေးဝ - တမူး | ၁၀၀ မိုင် | ကျပ် ၈၆၇၀.၂၀ သန်း | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၄/ ၂၀၀၉) (၂၉-၇-၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက် နှင့်အညီ အဆိုပြုလမ်းအပိုင်း (၂)ပိုင်းတွင် လမ်းအသုံးပြုခနှုန်း၊ တံတားဖြတ်သန်းခ ကောက်ခံသည့် စနစ်နှင့် လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခြင်း ကိစ္စများကို ပဋိညာဉ်စာချုပ် (မူကြမ်း) များတွင် ပြင်ဆင် တင်ပြထားပါသည်။ အဆိုပြုလမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ တည်ဆောက် ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံ စနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများ အတွက် တံတား အသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ ဘားအံ-ကော့ကရိတ်-မြဝတီ လမ်းအပိုင်းတွင် ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း မှ တည်ဆောက်ထားသည့် (၁၈၀)ပေအထက် တံတား (၇)စင်းနှင့် ကုမ္ပဏီမှ အသစ်တည် ဆောက်သည့် တံတား (၁)စင်းရှိပါသည်။

လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ) မှာ (၃)နှစ်ဖြစ်ပါသည်။ လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀)ဖြစ်ပြီး လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ

(၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက် ကာလမှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

အဆိုပြု ကုမ္ပဏီများမှ အောက်ပါ လမ်းအသုံးပြုခနှုန်းများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

လမ်း၊ တံတား အသုံးပြုခရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရ မည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

လမ်းအပိုင်းအလိုက် လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း | ၂၃-၉-၂၀၀၉ |
| ၂။ | အေးအေးနိုင် ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ကလေး - ကျီကုန်း - ကလေးဝ - တမူး လမ်းအပိုင်း | ၂၀-၁၀-၂၀၀၉ |

ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်းကို မူလက အေ-ကေ ဆောက်လုပ်ရေးနှင့် စက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက်အမည်ဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုလွှာ တင်ပြခဲ့ပါ သည်။ အထက်ပါ လမ်းအပိုင်း (၂)ပိုင်းကို (၁၅-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ (၄၄/၂၀၀၉) အစည်းအဝေးသို့တင်ပြခဲ့ရာ အေ- ကေ ဆောက်လုပ်ရေး နှင့် စက်မှု လုပ်ငန်းကုမ္ပဏီလီမိတက်သည် ဟိုတယ်လုပ်ငန်းလုပ်ကိုင်ခွင့်ရှိသည့် ကုမ္ပဏီဖြစ်ပါသဖြင့် လမ်းလုပ်ငန်း လုပ်ခွင့်ရှိသော ကုမ္ပဏီအမည်ဖြင့် ပြင်ဆင်တင်ပြလာပါက ကုန်သွယ်မှုမူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ ဘားအံ - ကော့ကရိတ် - မြဝတီ လမ်း အပိုင်းကို ဆောင်ရွက်မည့် ကုမ္ပဏီအမည်အား ဆောက်လုပ် ရေး လုပ်ငန်း လုပ်ခွင့်ရှိသော အေးကိုမိသားစု ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် အမည်ဖြင့် ပြောင်းလဲ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။ အဆိုပါလမ်းအပိုင်း (၂)ပိုင်းအား ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြပေးပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

အောက်ဖော်ပြပါ လမ်းအပိုင်း (၂)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | ဘားအံ - ကော့ကရိတ် - မြဝတီ လမ်းအပိုင်း | (၁၁၀ မိုင် ၂ ဖာလုံ) | အေးကိုမိသားစုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |
| (ခ) | ကလေး - ကျီကုန်း - ကလေးဝ- တမူးလမ်းအပိုင်း | (၁၀၀ မိုင်) | အေးအေးနိုင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် |

ဥက္ကဋ္ဌသိသာပါရန် တင်ပြချက်

၁။ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကော်မရှင်သို့ တင်ပြခွင့်ပြုချက် ရယူခဲ့သည့် BOT လမ်းလုပ်ငန်း များကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

| | | အရေအတွက် (ခု) | |
|---|---|---|---|
| (က) | ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးလမ်းလုပ်ငန်းများ | ၂၄ | ပူးတွဲ(၁) |
| (ခ) | အစိုးရအဖွဲ့သို့တင်ပြထားသည့်လမ်းလုပ်ငန်းများ | ၃ | ပူးတွဲ(၂) |
| (ဂ) | အစိုးရအဖွဲ့သို့တင်ပြရန်ရှိသည့်လမ်းလုပ်ငန်းများ | ၃ | ပူးတွဲ(၃) |
| (ဃ) | ကုန်သွယ်မှုမူဝါဒကောင်စီသို့တင်ပြထားသည့် လမ်းလုပ်ငန်းများ | ၂ | ပူးတွဲ(၄) |
| | စုစုပေါင်း | ၃၂ | |

ပူးတွဲ (၁)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးပြီးသည့်

BOT စနစ်ဖြင့် လုပ်ကိုင်သည့် လမ်းလုပ်ငန်းများ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | လမ်းအပိုင်း | ခွင့်ပြုမိန့် အမှတ် | B.O.T လုပ်ငန်း သက်တမ်း |
|---|---|---|---|---|---|
| ၁။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | မန္တလေး - လားရှိုး - မူဆယ် ပြည်ထောင်စုလမ်းမကြီး၏ မန္တလေး - ပြင်ဦးလွင်- ဝက်ဝံ- နောင်ချိုလမ်းမကြီး ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံသည့် လုပ်ငန်း | မိုင်တိုင်အမှတ် (၈/ ၀) မှ (၇၉/ ၀) အထိ (၇၁)မိုင် | မနသ - ၅၃၄ (၁၂-၂-၀၂) | (၃၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၃) ကြိမ် တိုးမြှင့် ခွင့် |
| ၂။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | နောင်ချို- လားရှိုးလမ်းအား တည်ဆောက်ပြုပြင်ဖောက် လုပ်၍ လမ်း၊ တံတားအသုံး ပြုခကောက်ခံခြင်းလုပ်ငန်း | မိုင်တိုင်အမှတ် (၇၉/ ၀) မှ (၁၂၃/ ၀) အထိ (၄၄)မိုင် | မနသ - ၁၅၂ (၁၅-၇-၉၈) | (၃၀)နှစ်နှင့် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် |
| ၃။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | ကျောက်မဲ -လားရှိုး လမ်းအပိုင်း ကို ပြုပြင် ဖောက်လုပ်၍ လမ်း အသုံး ပြုခကောက်ခံခြင်းလုပ်ငန်း | မိုင်တိုင်အမှတ် (၁၂၃/၀) မှ (၁၇၂/ ၀) အထိ (၄၉)မိုင် | မနသ - ၆၉၂ (၁၈-၉-၀၈) | (၃၀)နှစ် |
| ၄။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | လားရှိုး - မူဆယ် ကားလမ်း အား ပြုပြင်ဖောက်လုပ် တည်ဆောက်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း | မိုင်တိုင်အမှတ် (၁၇၂/ ၀) မှ (၂၇၄/ ၃) အထိ (၁၀၂)မိုင် (၃)ဖာလုံ | မနသ - ၀၃၅ (၂၂-၇-၉၆) | (၃၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် |
| ၅။ | အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက် | လားရှိုး- မူဆယ် ပြည်ထောင်စု လမ်းမကြီး ၏ ဆက်စပ်လမ်း အပိုင်း များ ဖြစ်သော မိုင်းယု - ကြူကုတ်၊ မိုင်းယု - မူဆယ် နှင့် မူဆယ် - နမ့်ခမ်း လမ်း အပိုင်းတို့ ကို ပြုပြင် ဖောက်လုပ် ၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံ ခြင်းလုပ်ငန်း | လားရှိုး - မူဆယ် ဆက်စပ် လမ်း မိုင်တိုင် (၀/ ၀) မှ (၁၂/ ၀) ထိ၊ ကြူကုတ် လမ်း၊ (၁၂)မိုင်၊ မိုင်တိုင် (၁၇၄/၃) မှ (၂၈၄/၃)ထိ၊ မူဆယ်လမ်း အပိုင်း (၁၀) မိုင်၊ မိုင်တိုင် (၂၈၄/ ၃) မှ (၃၀၆/၃)ထိ၊ နမ့်ခမ်းလမ်း အပိုင်း (၂၂)မိုင် (၄၄)မိုင်(၃)ဖာလုံ | မနသ - ၃၆၇ (၂၀-၄-၀၀) | (၃၀)နှစ်နှင့် နောက်ထပ် (၅)နှစ် (၃)ကြိမ် တိုးမြှင့်ခွင့် |

